၂၄၁၀
ပုံစံ (မနသ-၁၇)-၂-၁၁



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၆၀............... / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးတေဇ

(ခ) အဘအမည် ........ ဦးမြင့်ဆွေ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ အမ်ဝိုင်ဂျီအင်န် – ၀၀၆၄၁၅

(ဃ) နေရပ်လိပ်စာ ........ အမှတ်(၈၆)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industries Group Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ အခြောက်ခံစနစ်ဖြင့် တစ်နေ့လျှင် တန်(၁၀၀၀)ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ ပြည်ညောင်ကျေးရွာအနီး (လန – ၃၉ မြေ)၊ သာစည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၂၅၂၁၀.၁၈ (သန်း) (အမေရိကန်ဒေါ်လာ (၂၆.၅၃) သန်း အပါအဝင် စုစုပေါင်း ကျပ် နှစ်သောင်း၊ ငါးထောင်၊ နှစ်ရာ့တစ်ဆယ်သန်း၊ တစ်သိန်း၊ ရှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၁ /၂၀၁၁(မနသ)
ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ တပို့တွဲလဆန်း ၁၄ ရက်
(၂၀၁၁ ခုနှစ် ၊ ဖေဖော်ဝါရီ လ ၁၇ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် မန္တလေးတိုင်းဒေသကြီး၊ သာစည်မြို့နယ်၊ ပြည်ညောင်ကျေးရွာအနီးရှိကုမ္ပဏီအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော လန - ၃၉ မြေ (၁၇၃) ဧက တွင် တစ်နေ့လျှင် တန်(၁၀၀၀)ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အမှတ်(၁) စက်မှု ဝန်ကြီး ဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြု တင်ပြချက်အား (၁၂ - ၁၁ -၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၇ /၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင် မှ စိစစ်ခဲ့ပြီး (၁၉-၁-၂၀၁၁)နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘောတူညီချက်အရ (၃-၂-၂၀၁၁) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၅/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် (Htoo International Industries Group Co., Ltd.) အား တစ်နေ့လျှင် တန် (၁၀၀၀) ကျ စက်ရုံတည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၉၀/၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး

ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်း အထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဖ)နှင့်(ဗ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ခ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက် များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင် သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊

အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထား သည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၈။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထား သည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံ ပိတ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၉။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက် ရမည်။

၁၀။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) <u>မပျက်မကွက်</u> ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် မတည်ငွေရင်း ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ(ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့်တယ်လီဖုန်းနံပါတ်) တို့ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင် သို့ <u>မပျက်မကွက်</u> တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှု

မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည် အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၄။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၁၀၆ / ၂၀၁၁( ၂၄၁၀ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်။

မြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မန္တလေးတိုင်းဒေသကြီး၊ အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး၊ မန္တလေးမြို့။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။

၆။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၇။ သတ္တုတွင်းဝန်ကြီးဌာန။

၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၂။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ကျွေထည်မြေထည်လုပ်ငန်း။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)သတ္တုတွင်းလုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၇။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီ လီမိတက် (Htoo International Industries Group Co., Ltd.)